





# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၀၅၁ / ၂၀၁၅။ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၂၇ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးဇော်ဝင်း

(ခ) **အဘအမည်** ဦးခင်မောင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၉/မရမ(နိုင်) ၀၀၁၆၂၄

(ဃ) **နေရပ်လိပ်စာ** အမှတ်(၃)၊ (၁၄)လမ်းနှင့် (၁၅)လမ်းကြား၊ ပြည်ကြီးရန်လုံရပ်ကွက်၊ အောင်မြေသာဇံမြို့နယ်၊ မန္တလေးမြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** SHWE MAWLAMYINE BEVERAGE ENTERPRISE COMPANY LIMITED (ရွှေမော်လမြိုင် အဖျော်ယမကာ လုပ်ငန်း ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** အဆင့်မြင့် ပြည်တွင်းဖြစ် အရက် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မွန်ပြည်နယ်၊ မော်လမြိုင်မြို့၊ မုပွန်ရပ်ကွက်၊ ကွင်းအမှတ် ၇၉၊ ၈၀ ရှိ စက်ရုံနှင့်မြေ (၆.၆၉၄)ဧကနှင့် ကွင်းရပ်ရပ်ကွက်၊ ဇင်ယော်လမ်း၊ အမှတ်(၁၈)၊ ကွင်းအမှတ် ၇၅ ရှိ ရေခဲစက်ဝန်ထမ်းအိမ်ယာပါ မြေ (၄.၇၇၄)ဧက စုစုပေါင်း (၁၁.၄၆၈) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၄၀၀၀.၀၀ သန်း(အမေရိကန်ဒေါ်လာ ၁.၉၃ သန်း အပါအဝင် စုစုပေါင်း ကျပ်သန်းလေးထောင် တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၄၀ / ၂၀၁၅ (မနသ)

၂၀၁၅ ခုနှစ် ဧပြီလ ၂၇ ရက်

၁။ Mandalay Golden Friend Mining Co., Ltd. သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ မုပွန်ရပ်ကွက်၊ ကွင်းအမှတ် ၇၉၊ ၈၀ ရှိ စက်ရုံနှင့်မြေ (၆.၆၉၄)ဧကနှင့် ကွင်းရပ်ရပ်ကွက်၊ ဇင်ယော်လမ်း၊ အမှတ်(၁၈)၊ ကွင်းအမှတ် ၇၅ ရှိ ဝန်ထမ်း အိမ်ရာပါမြေ (၄.၇၇၄)ဧက စုစုပေါင်း (၁၁.၄၆၈)ဧကကို B.O.T စနစ်ဖြင့် ကနဦး (၅၀)နှစ်နှင့် နောက်ထပ် (၁၀)နှစ် (၂)ကြိမ် ငှားရမ်း၍ အဆင့်မြင့်ပြည်တွင်းဖြစ်အရက် ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် စက်မှုဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၀ ရက် နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၃/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ "ကုမ္ပဏီအမည်ပြောင်း၍ တင်ပြလာပါက ခွင့်ပြုမိန့် ထုတ်ပေးရန်" ဆုံးဖြတ်ချက်အရ ကုမ္ပဏီမှ Mandalay Golden Friend Mining Co., Ltd. အစား Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်)သို့ ပြောင်းလဲပြီး ကော်မရှင်သို့ တင်ပြ လာပါသဖြင့် ၂၀၁၅ ခုနှစ် ဧပြီလ ၂ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၆/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော် ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်)အား အဆင့်မြင့်ပြည်တွင်းဖြစ် အရက် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၀၅၁ / ၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၃။ Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော် ယမကာလုပ်ငန်း ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁) အရ အောက်ပါ

ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က) အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅) နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား ၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့် အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့်အရှုံးငွေကို ယင်းသို့အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန် တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက် ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန် ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည် အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဥ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှု ဖြင့် ဆောင်ရွက်ရမည်။

၅။ Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာ လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက် များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၆။ Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်းကုမ္ပဏီလီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၇။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် အငှားချထားခြင်းခံရသူက တစ်နှစ်လျှင် ကျပ်သိန်း ၆၀ ဖြင့် ကနဦး ၅၀ နှစ် ပြည့်မြောက်ပြီး ၁၀ နှစ် ၂ ကြိမ် ထပ်မံသက်တမ်းတိုးဆောင်ရွက်ခြင်းကို စက်မှုဝန်ကြီးဌာနမှ တစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုချက် တင်ပြဆောင်ရွက်ရမည်။ တိုးချဲ့ဆောင်ရွက်သည့်လုပ်ငန်းပေါ်မူတည်၍ ငှားရမ်းခတိုးမြှင့်ပေးရန်ကိစ္စကို နှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်။ ငှားရမ်းခပြင်ဆင်သတ်မှတ်ခြင်းကို နှစ်စဉ် ပြုလုပ်သွားမည်ဖြစ်ပြီး ငှားရမ်းခကို ၂ နှစ် ၁ ကြိမ် ပြန်လည်သုံးသပ်၍ ၂% မှ ၅% အတွင်း မပိုမလျော့နည်းစေရန် နှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်။

၉။ အငှားချထားခြင်းခံရသူသည် တစ်နှစ်စာငှားရမ်းခ၏ ၁၀% နှင့် ညီမျှသော တန်ဖိုးအား လုပ်ငန်းဆောင်ရွက်မှုအာမခံ (Performance Bank Guarantee) အဖြစ် မြန်မာ့စီးပွားရေးဘဏ်တွင် အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်းကို စာချုပ်သက်တမ်းတစ်လျှောက် ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်းတွင် ထိန်းသိမ်းထားရှိရမည်။

၁၀။ အငှားချထားခြင်းခံရသူသည် စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရ တွက်ချေကိုက်မှု မရှိခြင်း၊ အခြားသော အဆင်မပြေမှုများ ရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက် ပြန်လည်ညှိနှိုင်းဆွေးနွေးရန် ၃ လကြိုတင် အကြောင်းကြားရမည်။ သို့ရာတွင် ယင်းဆွေးနွေးသည့် အချိန်ကာလမှ စ၍ နောင်ထပ်မံငှားရမ်းသူ ရရှိသည့် အချိန်ကာလအထိ လက်ရှိငှားရမ်းခွင့် ရရှိသူမှ စက်ရုံနှင့် ပတ်သက်သည့် စက်ရုံငှားရမ်းခ၊ ဝန်ထမ်းလစာနှင့် စရိတ်များ၊ ပင်စင်ထည့်ဝင်ခြင်းများ နှင့် အခြားစရိတ်များအားလုံးကို ကျခံဆောင်ရွက်ပေးရမည်။

၁၁။ Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေနိုင်ရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါ ဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan-EMP) ကို

ရေးဆွဲတင်ပြပြီး ယင်းဆောင်ရွက် ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် သက်ဆိုင်ရာ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့ အစီရင်ခံရမည်။

၁၂။ Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်) သည် ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေး၊ Trade Mark ကုန်ပစ္စည်းအမှတ်တံဆိပ် အမည်/အမှတ်အသား၊ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာ ဌာနများ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၁၃။ Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်းအား ယစ်မျိုးဥပဒေနှင့်အညီ လိုင်စင်ရရှိရန် ဆောင်ရွက်ရမည်ဖြစ်ပြီး ကျန်းမာရေးဦးစီးဌာန၏ ထောက်ခံချက်၊ မြန်မာနိုင်ငံ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာနတို့၏ ထောက်ခံချက်တို့ကို ရယူဆောင်ရွက်ရမည်။

၁၄။ Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှုမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည် အထိ အရေးယူခြင်း ခံရမည်။

၁၅။ Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်)မှ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယား စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၆။ Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ်စသည်များ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း

ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ထို့အပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက် ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများပေးရမည်။

၁၇။ Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၈။ Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်)သည် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၉။ Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်)သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃) လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင်ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၁။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်း လိုင်စင်များနှင့် ပြည်ပမှတင်သွင်းသည့်ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင်လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂ (င) အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်းခံရမည်။

၂၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၂/မ-၂၀၅/၂၀၁၅ ( ၂၆၃ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဧပြီလ ၂၇ ရက်

ဖြန့်ဝေခြင်း -

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ကျန်းမာရေးဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန
မြန်မာနိုင်ငံတော် ဗဟိုဘဏ်
မွန်ပြည်နယ်အစိုးရအဖွဲ့
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသား မှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှု မြှင့်တင်ရေး ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့် အိမ်ယာဖွံ့ဖြိုးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း
ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်
အုပ်ချုပ်မှုဒါရိုက်တာ၊ Shwe Mawlamyine Beverage Enterprise Co., Ltd.
(ရွှေမော်လမြိုင် အဖျော် ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်)

MIC, 12/22/4 DG 23/28/4/15

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

117/24/4

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဧပြီလ ၁၀ ရက်

အကြောင်းအရာ။ **Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင်အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်) အား ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ ထုတ်ပေးနိုင်ပါရန် တင်ပြခြင်း ကိစ္စ**

၁။ Mandalay Golden Friend Mining Co., Ltd. သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက်ရှိ စက်ရုံနှင့်မြေ (၆.၆၉၄)ဧက နှင့် ကွင်းရပ်ရပ်ကွက်၊ ဇင်ယော် လမ်း၊ အမှတ် (၁၈) ဝန်ထမ်းအိမ်ရာ၏ မြေ (၄.၇၇၄)ဧက စုစုပေါင်း (၁၁.၄၆၈)ဧကကို ငှားရမ်း၍ B.O.T စနစ်ဖြင့် အဆင့်မြင့် ပြည်တွင်းဖြစ် အရက် ထုတ်လုပ် ဖြန့်ဖြူးခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် စက်မှုဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၀ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၃/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ Mandalay Golden Friend Mining Co., Ltd. (မန္တလေး ရွှေသူငယ်ချင်း သတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက်)မှ စက်မှုဝန်ကြီးဌာနပိုင် မြေကို ငှားရမ်း၍ B.O.T စနစ်ဖြင့် အဆင့်မြင့် ပြည်တွင်းဖြစ်အရက် ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းအား **"ကုမ္ပဏီအမည်ပြောင်း၍ တင်ပြလာပါက ခွင့်ပြုမိန့်ထုတ်ပေးရန်"**ဆုံးဖြတ်ခဲ့ပါသည်။ ပူးတွဲ-၁

၂။ အစည်းအဝေး ဆုံးဖြတ်ချက်အရ ကုမ္ပဏီမှ Mandalay Golden Friend Mining Co., Ltd. အစား Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်) သို့ ပြောင်းလဲပြီးဖြစ်ကြောင်း ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် ကုမ္ပဏီမှတ်ပုံတင်လက်မှတ်မိတ္တူနှင့်အတူ ကော်မရှင်သို့ တင်ပြလာပါသဖြင့် ၂၀၁၅ ခုနှစ် ဧပြီလ ၂ ရက်နေ့တွင်ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ၆/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ပူးတွဲ-၂

၃။ ယင်းအစည်းအဝေး ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီ လီမိတက်)အား အဆင့်မြင့်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၇ ရက်၊ ၉:၀၀ နာရီတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး အမှတ်(၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့၊ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၃/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးမှတ်တမ်း**

အောက်ပါပုဂ္ဂိုလ်များ အစည်းအဝေးသို့ တက်ရောက်ကြပါသည် -

| | |
|---|---|
| ဦးဇေယျာအောင်<br>ပြည်ထောင်စုဝန်ကြီး<br>စွမ်းအင်ဝန်ကြီးဌာန | ဥက္ကဋ္ဌ |
| ဦးဌေးအောင်<br>ပြည်ထောင်စုဝန်ကြီး<br>ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန | ဒုတိယဥက္ကဋ္ဌ |
| ဒေါက်တာထွန်းရှင်<br>ပြည်ထောင်စုရှေ့နေချုပ်<br>ပြည်ထောင်စုရှေ့နေချုပ်ရုံး | အဖွဲ့ဝင် |
| ဒေါ်လဲ့လဲ့သိန်း<br>ဒုတိယဝန်ကြီး<br>အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန | အဖွဲ့ဝင် |
| ဒေါက်တာအောင်ထွန်းသက်<br>စီးပွားရေးပညာရှင် | အဖွဲ့ဝင် |
| ဦးညွန့်တင်<br>သံအမတ်ကြီး (အငြိမ်းစား) | အဖွဲ့ဝင် |
| ဦးဝင်းခိုင်<br>ဥက္ကဋ္ဌ<br>မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | အဖွဲ့ဝင် |
| ဒေါ်ခိုင်ခိုင်နွယ်<br>စီးပွားရေးလုပ်ငန်းရှင် | အဖွဲ့ဝင် |

**၁၀။ မန္တလေးရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Mandalay Golden Friend Mining Co., Ltd.) မှ စက်မှုဝန်ကြီးဌာနပိုင် မြေကို ငှားရမ်း၍ B.O.T စနစ်ဖြင့် အဆင့်မြင့် ပြည်တွင်းဖြစ် အရက် ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

ကော်မရှင်အတွင်းရေးမှူး၊ ဦးအောင်နိုင်ဦးက အမှာစာပါအကြောင်းအရာအား ဖော်ပြလျက် အဓိကအချက်များကိုကုမ္ပဏီမှဆွေးနွေးတင်ပြပေးရန်ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏တာဝန်ရှိသူမှ မော်လမြိုင် အမှတ် (၄)အရက်ချက်စက်ရုံတွင် အရက်၊ ဝီစကီထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း၊ အမှတ်(၉၄) အရက်ချက် စက်ရုံသည် (၁၈၆၀) ခုနှစ်တွင် စတင် လုပ်ငန်းဆောင်ရွက်ခဲ့ကြောင်း၊ ယခုအခါ စက်မှုဝန်ကြီးဌာနမှ လွှဲပြောင်းရယူ၍ ဒေသခံများ အလုပ် အကိုင်အခွင့်အလမ်းများ ရရှိစေရန် တစ်နှစ် လီတာ (၉၉,၀၀၀)ထုတ်လုပ်မည်ဖြစ်ကြောင်း၊ စက်ပစ္စည်း အနေဖြင့် Malt Distillation Unit တစ်ခု ထပ်မံတပ်ဆင်မည်ဖြစ်ကြောင်း၊ အရင်းကြေကာလ(၃)နှစ် (၁၁)လ ဖြစ်ပြီး IRR မှာ ၂၃.၁၂% ဖြစ်ကြောင်း၊ ထုတ်လုပ်မှုစနစ် အနေဖြင့် စက်မှုမှ လွှဲပြောင်းသည့် ပုံစံဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ CSR နေဖြင့် ဆောင်ရွက်ထားရှိမှာ မီးဘေး ကာကွယ်ရေးအနေဖြင့် အရေးပေါ်ထွက်ပေါက်၊ ဝင်ပေါက်များ စီစဉ်ထားကြောင်းနှင့် ဆေးလိပ်သောက်ခြင်းကို တားမြစ်ထားပါကြောင်း၊ ပုလင်းအမှတ်တံဆိပ်အား မော်လမြိုင် စက်ရုံမှ ထုတ်လုပ်သည့် Moulmein Whisky တံဆိပ်အတိုင်း ဆက်လက်ထုတ်လုပ်မည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဥက္ကဋ္ဌမှ စက်မှုဝန်ကြီးဌာန၏ တာဝန်ရှိသူအား မည်သည့်အတွက် သတ္တုတွင်းလုပ်ငန်း ကုမ္ပဏီအား ပေးကြောင်းနှင့် အရက်ချက်သည့်လုပ်ငန်းနှင့် ငှားရမ်းခြင်း (သို့မဟုတ်) သတ္တုလုပ်ငန်း အနေဖြင့် ငှားရမ်းခြင်းကို ရှင်းလင်းရန် ပြောကြားရာတာဝန်ရှိသူမှ ကုမ္ပဏီ အနေဖြင့် အရက်ချက် လုပ်ငန်းလည်း ရှိ၍ ငှားခဲ့ခြင်းဖြစ်ကြောင်း၊ မြန်မာ့စီးပွားရေးဦးပိုင်မှ ဆက်လက်ဆောင်ရွက်ရန် ဖြစ်သော်လည်း ဆောင်ရွက်နိုင်ခြင်း မရှိ၍ တင်ဒါခေါ်ယူခဲ့ခြင်း ဖြစ်ပါကြောင်း၊ တင်ဒါအောင်သူအား ပေးခဲ့ခြင်းဖြစ်ပါကြောင်း ရှင်းလင်း တင်ပြပါသည်။

ကုမ္ပဏီမှ တာဝန်ရှိသူက မန္တလေးတွင် ရွှေမြင်းပျံ အရက်ချက်စက်ရုံရှိကြောင်း၊ စက်မှုဝန်ကြီး ဌာနမှ တင်ဒါခေါ်သည့်အခါ ယှဉ်ပြိုင်ခဲ့ရာ အောင်မြင်ခဲ့ပါကြောင်း၊ အရက်ချက်လုပ်ငန်းသည် စက်မှု လုပ်ငန်းတွင် ပါ၍ လျှောက်ထားခဲ့ကြောင်း၊ ရွှေမြင်းပျံသည် ကုမ္ပဏီအမည် မဟုတ်ပဲ တစ်ဦးတည်းပိုင် လုပ်ငန်းဖြစ်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင် အဖွဲ့ဝင် ဒေါက်တာအောင်ထွန်းသက်မှ သတ္တုတွင်းကုမ္ပဏီ အမည်ဖြင့် စက်မှုဝန်ကြီး ဌာနသို့ လျှောက်ထားသည့်အခါ ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် မလျှောက်ပဲ မည်သည့်အတွက် လျှောက်ထား သည်ကို သိလိုကြောင်း မေးမြန်းရာတွင် အတွင်းရေးမှူးမှ ယခင်ကုမ္ပဏီတခုအား လုပ်ငန်းရည်ရွယ်ချက် (၅)မျိုး ပေးသည့်အတွက် ဥပဒေနှင့်အညီ ဆောင်ရွက်ရန်ဖြစ်သည့်အခါ ယခင်က သတ္တုတွင်းကုမ္ပဏီ

အမည်ဖြင့် အရက်ချက်စက်ရုံလုပ်ငန်း ဆောင်ရွက်ရန်လိုပါက ဆောင်ရွက်ခွင့်ပေးရကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အဖွဲ့ဝင် ပြည်ထောင်စုရှေ့နေချုပ် ဒေါက်တာထွန်းရှင်က ဈေးကွက် စီးပွားရေးစနစ်အရ လုပ်ငန်း ရည်ရွယ်ချက်အား ကန့်သတ်လိုက်သည့် အခါ ဝန်ဆောင်မှုလုပ်ငန်း၊ ရောင်းဝယ်ရေးလုပ်ငန်း စသည့်ဖြင့် ကန့်သတ်လိုက်သည့်အတွက် ဖြစ်ကြောင်း၊ကုမ္ပဏီမှတ်ပုံတင်ရာတွင် ထုတ်လုပ်မှုလုပ်ငန်း အနေဖြင့် အရက်ထုတ်လုပ်ရောင်းချသည့် လုပ်ငန်း လျှောက်ထားခြင်း ဖြစ်ကြောင်း ဆွေးနွေးပါသည်။

ကော်မရှင် အတွင်းရေးမှူးက ကုမ္ပဏီအမည်အား ပြောင်းလိုက်က ကောင်းမည်ဖြစ်ကြောင်း၊ စက်မှုဝန်ကြီးဌာနမှ လေးလံတင်သော ကုမ္ပဏီများ အကုန်လာမည်ဖြစ်ကြောင်း ပြောကြားပြီး ဒေါက်တာ အောင်ထွန်းသက်မှ မွန်ပြည်နယ်တွင် လုပ်ငန်း ဆောင်ရွက်ရာတွင် ဒေသခံဝန်ထမ်းများ ပါဝင်ခြင်း ရှိ-မရှိ သိလိုကြောင်း ပြောကြားပါသည်။

ကုမ္ပဏီ၏တာဝန်ရှိသူက ဝန်ထမ်းအသစ်အား မော်လမြိုင်က ခေါ်မည်ဖြစ်ပြီး လက်ရှိ စက်မှုဝန်ကြီးဌာနက ဝန်ထမ်းများအား လွှဲပြောင်းယူ၍ စီမံခန့်ခွဲမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပြီး စက်မှုဝန်ကြီးဌာနမှ တာဝန်ရှိသူမှ စက်ရုံအနေဖြင့် မော်လမြိုင်ရမ်နှင့် ဝီစကီထုတ်နေကြောင်း၊ ဒေသခံများ ကိုသာ ရောင်းချရသည့်အတွက် ယခုထိပစ္စည်းလက်ကျန်များရှိကြောင်းနှင့် မြန်မာ့စီးပွားရေး ဦးပိုင် လီမိတက်မှ လွှဲပြောင်းယူမည်ပြောပြီး မယူသဖြင့် အရှုံးပေါ်နေကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဥက္ကဋ္ဌမှ စက်မှုဝန်ကြီးဌာနမှ ၂၀၁၃ ခုနှစ်တွင် ငှားရမ်းထားခြင်းဟုတ်-မဟုတ်နှင့် စက်မှုဝန်ကြီးဌာန လက်ထက်တွင် လုပ်ငန်းဆောင်ရွက်နေဆဲ ဟုတ်-မဟုတ် မေးမြန်းရာ စက်မှုဝန်ကြီး ဌာနမှ ၂၀၁၃ ခုနှစ်တွင် ငှားရမ်းထားခြင်း ဖြစ်ကြောင်းပြောကြားပြီး ကော်မရှင်ဥက္ကဋ္ဌမှ ကုမ္ပဏီအား အမည်ပြောင်း တင်ပြရန် ဖြစ်ကြောင်း ပြောကြားပါသည်။

ကော်မရှင်အစည်းအဝေးမှ မန္တလေးရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (Mandalay Golden Friend Mining Co., Ltd.)မှ စက်မှုဝန်ကြီးဌာနပိုင် မြေကို ငှားရမ်း၍ B.O.T စနစ်ဖြင့်အဆင့်မြင့် ပြည်တွင်းဖြစ်အရက် ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်းအား ကုမ္ပဏီအမည် ပြောင်း၍ တင်ပြလာပါက ခွင့်ပြုမိန့် ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

**၁၁။ Dawei Development Public Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်မြို့၊ ထိန်သစ်ရပ်ကွက်ရှိ မြေ(၁၅.၅၃)ဧကတွင် Shopping Center Building ၊ Multi Purpose Hall Building ၊ Shop House(၂၂)လုံး တည်ဆောက်ပြီး DDPC Shopping Center အမည်ဖြင့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

ကော်မရှင်အတွင်းရေးမှူး၊ ဦးအောင်နိုင်ဦးက အမှာစာပါအကြောင်းအရာအား ဖော်ပြလျက် အဓိကအချက်များကိုကုမ္ပဏီမှဆွေးနွေးတင်ပြပေးရန်ဖိတ်ခေါ်ပါသည်။

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
| --- | --- |
| (စ) Goshu-A1 Eco Business Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရေဆိုးရေညစ်များ ဓာတ်ခွဲစမ်းသပ်၍ လိုအပ်သည့် အကြံပြုချက်များပေးခြင်း၊ သန့်စင်စက်များ တပ်ဆင်ပေးခြင်း၊ ပြုပြင်ထိန်းသိမ်းပေးခြင်း စသည့် ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန် တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ နိုင်ငံတကာ စံနှုန်းသတ်မှတ်ခြင်း နှင့် ကိုက်ညီခြင်း ရှိ-မရှိ စိစစ်နိုင်ရန် သိပ္ပံနှင့် နည်းပညာ ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ |
| (ဆ) အာကာဦးကုမ္ပဏီလီမိတက်မှ ပဲမျိုးစုံကြိတ်ခွဲခြင်းနှင့် သန့်စင်ခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး စက်မှုဝန်ကြီးဌာန |
| (ဇ) မန္တလေးရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီ လီမိတက် (Mandalay Golden Friend Mining Co., Ltd.)မှ စက်မှုဝန်ကြီးဌာနပိုင် မြေကို ငှားရမ်း၍ B.O.T စနစ်ဖြင့်အဆင့်မြင့် ပြည်တွင်းဖြစ်အရက် ထုတ်လုပ်ဖြန့်ဖြူး ခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ကုမ္ပဏီ အမည် ပြောင်း၍ တင်ပြလာပါက ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး စက်မှုဝန်ကြီးဌာန၊ ကျန်းမာရေးဝန်ကြီးဌာန |
| (ဈ) Dawei Development Public Co., Ltd. မှ တနင်္သာရီတိုင်း ဒေသကြီး၊ ထားဝယ်မြို့၊ ထိန်သစ်ရပ်ကွက်ရှိ မြေ(၁၅.၅၃)ဧကတွင် Shopping Center Building ၊ Multi Purpose Hall Building ၊ Shop House(၂၂)လုံး တည်ဆောက်ပြီး DDPC Shopping Center အမည်ဖြင့် ဝန်ဆောင်မှု လုပ်ငန်းအား ဆောင်ရွက် ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး တနင်္သာရီတိုင်း ဒေသကြီး အစိုးရအဖွဲ့ |

စားပွဲတင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၂/ မ- ၂၀၅/၂၀၁၅ ( ၂၅၉ )
ရက်စွဲ ၊၂၀၁၅ ခုနှစ် ဧပြီလ ၂ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Mandalay Golden Friend Mining Co., Ltd. မှ Shwe Mawlamyine Beverage Enterprise Co., Ltd. သို့ ကုမ္ပဏီ အမည် ပြောင်း၍ တင်ပြလာခြင်းကိစ္စ**

၁။ Mandalay Golden Friend Mining Co.,Ltd. (မန္တလေး ရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက်)သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက်ရှိ စက်ရုံနှင့် မြေ (၆.၆၉၄)ဧကနှင့် ကွင်းရပ်ရပ်ကွက်၊ ဇင်ယော်လမ်း၊ အမှတ် (၁၈) ဝန်ထမ်းအိမ်ရာ၏ မြေ (၄.၇၇၄)ဧက စုစုပေါင်း (၁၁.၄၆၈) ဧကကို B.O.T စနစ်ဖြင့် ကနဦး(၅၀)နှစ်နှင့် နောက်ထပ် (၁၀)နှစ် (၂)ကြိမ် ငှားရမ်း၍ အဆင့်မြင့် ပြည်တွင်းဖြစ် အရက်ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှတဆင့် ရင်းနှီးမြှုပ်နှံသူ ဦးဇော်ဝင်း(အဘ-ဦးခင်မောင်) မှ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်းအား ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၀ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၃/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ "ကုမ္ပဏီ အမည်ပြောင်း၍ တင်ပြလာပါက ခွင့်ပြုမိန့်ထုတ်ပေးရန်" ဆုံးဖြတ်ချက်အရ ကုမ္ပဏီမှ "Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီ လီမိတက်)"ဟု ပြင်ဆင်၍ ပြန်လည် တင်ပြလာပါသည်။

**ဆုံးဖြတ်ရန်အချက်**

၃။ Mandalay Golden Friend Mining Co.,Ltd. (မန္တလေး ရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက်)မှ Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်)"သို့ ကုမ္ပဏီအမည် ပြောင်း၍ ပြင်ဆင်တင်ပြလာပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဉက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ



# SHWE MAWLAMYINE BEVERAGE ENTERPRISE CO.,Ltd

Room (A-4), No. 295, Myoma Appartment Myoma Kyaung St., Dagon Towsnhip, Yangon.
Tel : 95 - 1- 4411198

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ၊ ၂၀၁၅ခုနှစ်၊ ဧပြီလ ( ၁ )ရက်။

အကြောင်းအရာ။ ။ **Mandalay Golden Friend Mining Co.,Ltd, မှ စက်မှုဝန်ကြီးဌာနပိုင် မြေကို ငှားရမ်း၍ BOT စနစ်ဖြင့် အဆင့်မြင့် ပြည်တွင်းဖြစ်အရက် ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန်အဆိုပြု တင်ပြခြင်း။**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၀၃-၂၀၁၅ ရက်စွဲပါစာအမှတ် ရက-၂/မ ၂၀၅ / ၂၀၁၅ (၁၉၂)

၁။ ကျွန်တော်များ Mandatay Golden Friend Mining Co.,Ltd သည်စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်၊ နယ်ကျွန်းရပ်၊ မုပွန်ရပ်ကွက်ရှိ စက်ရုံနှင့်မြေ (၆. ၆၉၄) ဧကနှင့် ကွင်းရပ်ရပ်ကွက်၊ ဇင်ယော်လမ်း၊ အမှတ် (၁၈) ဝန်ထမ်းအိမ်ယာ၏မြေ (၄. ၇၇၄)ဧကစုစုပေါင်း (၁၁. ၄၆၈)ဧကကို ငှားရမ်း၍ BOT စနစ်ဖြင့် အဆင့်မြင့် ပြင်တွင်းဖြစ်အရက် ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းဆောင်ကို ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၇-၀၂-၂၀၁၅)ရက်နေ့တွင် ကျင်းပသည့် (၃/၂၀၁၅) အစည်းအဝေးသို့ တင်ပြခဲ့ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှရည်ညွှန်းချက်ပါစာဖြင့် "ကုမ္ပဏီအမည်ပြောင်း၍ တင်ပြလာပါက ခွင့်ပြုမိန့် ထုတ်ပေးရန်" ဆုံးဖြတ်ခဲ့ပါသည်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်အရ ကျွန်တော်များ Mandalay Golden Friend Mining Co.,Ltd အမည်မှ SHWE MAWLAMYINE BEVERAGE ENTERPRISE Co.,LTD (ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်) အမည်သို့ပြောင်းလဲပြီးဖြစ်သဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် ကုမ္ပဏီမှတ်ပုံတင်ကဒ်ပြား (ပူးတွဲ)နှင့်အတူ တင်ပြ အပ်ပါသည်။

လေးစားစွာဖြင့်

ZAW WIN
Managing Director
Shwe Mawlamyine Beverage Enterprise Co.,Ltd




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၇၈၉၁
📠 ၀၁-၆၅၈၁၃၅

စာအမှတ် ၊ ရက-၁၀/၁ / ၂၀၁၅( ၄၁၃၂ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ၊ မတ် လ ၉ ရက်

သို့

ညွှန်ကြားရေးမှူးချုပ်
ပြည်တွင်းအခွန်များ ဦးစီးဌာန
ရုံးအမှတ်(၄၆)၊ နေပြည်တော်

အကြောင်းအရာ။ **ကုမ္ပဏီအမည် ပြောင်းလဲကြောင်း အကြောင်းကြားခြင်း**

၁။ အထက်ပါ ကိစ္စ နှင့် စပ်လျဉ်း ၍ မန္တလေး ရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီ လီမိတက်( Mandalay Golden Friend Mining Co.,Ltd. ) အား ကုမ္ပဏီမှတ်ပုံတင်အမှတ်-၁၂၈၈/၂၀၀၆-၂၀၀၇ (၁၁-၁-၂၀၀၇) ဖြင့် ဖွဲ့စည်းခွင့်ပြုခဲ့ ပါသည်။

၂။ ကုမ္ပဏီအမည်အား မန္တလေး ရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီ လီမိတက် (Mandalay Golden Friend Mining Co.,Ltd.) မှ ရွှေမော်လမြိုင် အဖျော်ယမကာ လုပ်ငန်း ကုမ္ပဏီ လီမိတက်( Shwe Mawlamyine Beverage Enterprise Co., Ltd. ) အမည်သို့ (၉-၃-၂၀၁၅) ရက်နေ့ တွင် ကုမ္ပဏီ အမည် ပြောင်းခွင့် ပြုပါကြောင်း သိရှိနိုင်ပါရန် အကြောင်းကြား အပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
( သင်းသင်းမြင့်၊ လက်ထောက်ညွှန်ကြားရေးမှူး )

မိတ္တူကို
ရုံးလက်ခံ
မျှောစာတွဲ

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT
DIRECTORATE OF INVESTMENT AND COMPANY ADMINISTRATION
CERTIFICATE OF REGISTRATION OF DOCUMENTS

No. 1288 of 2006 - 2007

IN THE MATTER OF SHWE MAWLAMYINE BEVERAGE ENTERPRISE COMPANY LIMITED.

I do hereby certify that pursuant to the Myanmar Companies Act.

- Memorandum and Articles of Association.
- Special Resolution made on 18-3-2015.
- Change of Company's Name.
- Services Fees.

His / Have been this day duly filed and registered in this office

Dated Yangon, this TWENTY-FIFTH day of MARCH,

Two Thousand and FIFTEEN.

MEMORANDUM OF FEES PAID

For Registering / Filing ..................................

| | | | | K. | P. |
|---|---|---|---|---|---|
| 1. | Memorandum of Association | ...... | ...... | 50,000 | 00 |
| 2. | Article of Association | ...... | ...... | | |
| 3. | Notice of situation of registered Office and changes therein | ...... | ...... | | |
| 4. | Return of allotments | | | | |
| 5. | Annual list of members and summary of share Capital | ...... | ...... | | |
| 6. | Balance sheet | ...... | ...... | | |
| 7. | Special or extraordinary resolution | ...... | ...... | 7,500 | 00 |
| 8. | Particular of mortgages and charges | ...... | ...... | | |
| 9. | Copy of Register of Directors, Managers, or Managing Agents and changes therein | ...... | ...... | | |
| 10. | Return of persons authorized to accept Services of process and changes therein | ...... | ...... | | |
| 11. | | | | | |
| | | | Total: | 57,500 | 00 |

FOR DIRECTOR GENERAL
( THINN THINN MYAT - ASSISTANT DIRECTOR )

Change of Adds; CRD 11

000099

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ် **သက်တမ်းတိုး**

အမှတ် ၁၂၈၈ / ၂၀၀၆–၂၀၀၇

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ရွှေမော်လမြိုင် အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီ လီမိတက် အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၀၇ နှစ်၊ ဇန်နဝါရီ လ၊ ၁၁ ရက်နေ့တွင် မှတ်ပုံတင်ထားခြင်းအား ၂၀၁၄ နှစ်၊ မတ် လ၊ ၂၁ ရက်နေ့မှစ၍ သက်တမ်းတိုး ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)

(နီလာမူ၊ ဒုတိယညွှန်ကြားရေးမှူး)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

---

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR

MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. 1288 of 2006-2007

I hereby certify that the tenure of SHWE MAWLAMYINE BEVERAGE ENTERPRISE COMPANY LIMITED incorporated under the Myanmar Companies Act on 11th JANUARY, 2007 is renewed with effected from 21st MARCH, 2014

This new name has been changed from "MANDALAY GOLDEN FRIEND MINING COMPANY LIMITED" as per as 25-3-2015.

**For Director General**

**(Nilar Mu, Deputy Director)**

Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဦးဇော်ဝင်း......(၉/မရမ(နိုင်)၀၀၁၆၂၄)....

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အခန်းအမှတ်(အေ-၄)၊ အမှတ်(၂၉၅)၊ မြို့မကျောင်းလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။..............

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ၀၁-၄၄၁၁၁၉၈..................

(ဃ) ဒါရိုက်တာများ အမည်စာရင်း (၁) ဦးနေမျိုးအောင်
၅/ပလန(နိုင်)၀၃၅၄၈၉
(၂) ဦးရှီကျီ (ခ) ဦးကျော်ကျော်
၉/အမရ(နိုင်)၀၀၀၄၀၆
(၃) ဦးဇင်လှိုင်
၉/မရမ(နိုင်)၀၉၁၆၀၁
(၄) ဦးခင်အောင်
၁၂/စခန(နိုင်)၀၆၄၂၈၆

မှတ်ချက်။ (၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁၁-၁-၂၀၁၄ )မှ (၁၀-၁-၂၀၁၉ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စု ဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင် မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
( သင်းသင်းမြတ် ၊ လက်ထောက်ညွှန်ကြားရေးမှူး )

လာရောက်ထုတ်ယူသည့် ရက်စွဲ၊

3 1 MAR 2015




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၀၂၇
📠 ၀၁-၆၅၈၀၃၆

စာအမှတ်၊ ရကထ-၂/မ-၂၀၅/၂၀၁၅ ( ၇၈၂ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၁၀ ရက်

အကြောင်းအရာ။ Mandalay Golden Friend Mining Co., Ltd. မှ **စက်မှုဝန်ကြီးဌာနပိုင် မြေကို ငှားရမ်း၍ B.O.T စနစ်ဖြင့် အဆင့်မြင့် ပြည်တွင်းဖြစ် အရက် ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ စက်မှု ဝန်ကြီးဌာန၏ (၂၁-၁၁-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၂၃- စမ (၂) ၂၀၁၄-၂၀၁၅(၃၉၆၄)

၁။ Mandalay Golden Friend Mining Co., Ltd. (မန္တလေး ရွှေသူငယ်ချင်း သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက်) သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက်ရှိ စက်ရုံနှင့် မြေ (၆.၆၉၄)ဧကနှင့် ကွင်းရပ်ရပ်ကွက်၊ ဇင်ယော်လမ်း၊ အမှတ် (၁၈) ဝန်ထမ်းအိမ်ရာ၏ မြေ (၄.၇၇၄)ဧက စုစုပေါင်း (၁၁.၄၆၈)ဧကကို ငှားရမ်း၍ B.O.T စနစ်ဖြင့် အဆင့်မြင့် ပြည်တွင်းဖြစ် အရက်ထုတ်လုပ် ဖြန့်ဖြူးခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြလာခြင်းကို ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၇ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ **"ကုမ္ပဏီအမည်ပြောင်း၍ တင်ပြလာပါက ခွင့်ပြုမိန့် ထုတ်ပေးရန်"** ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်အား သိရှိဆောင်ရွက်နိုင်ပါရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

Mandalay Golden Friend Mining Co., Ltd.

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**၂၀၁၅ ခုနှစ်၊ ဧပြီ လ ၃ ရက်၊ ၉:၀၀ နာရီတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး အမှတ်(၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့၊ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၆/၂၀၁၅ ကြိမ်မြောက် အစည်းအဝေး မှတ်တမ်း**

အောက်ပါပုဂ္ဂိုလ်များ အစည်းအဝေးသို့ တက်ရောက်ကြပါသည် -

| | |
|---|---|
| ဦးဇေယျာအောင်<br>ပြည်ထောင်စုဝန်ကြီး<br>စွမ်းအင်ဝန်ကြီးဌာန | ဥက္ကဋ္ဌ |
| ဦးဌေးအောင်<br>ပြည်ထောင်စုဝန်ကြီး<br>ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန | အဖွဲ့ဝင် |
| ဦးဝင်းထွန်း<br>ပြည်ထောင်စုဝန်ကြီး<br>ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | အဖွဲ့ဝင် |
| ဒေါ်လဲ့လဲ့သိန်း<br>ဒုတိယဝန်ကြီး<br>အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန | အဖွဲ့ဝင် |
| ဦးညွန့်တင်<br>သံအမတ်ကြီး (အငြိမ်းစား) | အဖွဲ့ဝင် |
| ဦးဝင်းခိုင်<br>ဥက္ကဋ္ဌ<br>မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | အဖွဲ့ဝင် |
| ဒေါက်တာအောင်ထွန်းသက်<br>စီးပွားရေးပညာရှင် | အဖွဲ့ဝင် |
| ဒေါ်ခိုင်ခိုင်နွယ်<br>စီးပွားရေးလုပ်ငန်းရှင် | အဖွဲ့ဝင် |

| | | |
|---|---|---|
| (ယ) | WorldwideValue Manufacture Company Limited မှ မူလအဆိုပြု တင်ပြထားသည့် မြေနေရာမှာ မြေကွက်အမှတ် ၁၇၄၊ ပန်းပဲခေါင်းမောင်ခက်လမ်း၊ လှိုင်သာယာစက်မှုဇုန် (၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးမှ မြေနေရာအသစ် ဖြစ်သော မြေကွက်အမှတ် ၄၃၊ ဗန်းမော်အတွင်းဝန်လမ်း၊ ရွှေလင်ပန်းစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးသို့ ပြောင်းလဲ ဆောင်ရွက် ခွင့်ပြုရန်နှင့် မြေကိစ္စအား ရင်းနှီးမြှုပ်နှံသူနှင့် မြေရှင်တို့မှ တရားရုံးတွင်ဖြေရှင်းရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး |
| (ရ) | စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံနှင့် သဘာဝဓာတ်ငွေ့ လုပ်ငန်းအမည်ဖြင့် Total E & P Myanmar Co., Ltd. က အမှန်တကယ်လိုအပ်သည့် Radio Active Source နှင့် Silck Line Tools များ တန်ဖိုး အမေရိကန် ဒေါ်လာ ၃၂၉,၁၈၀.၀၀ (အမေရိကန် ဒေါ်လာ သုံးသိန်းနှစ်သောင်းကိုးတောင့်တစ်ရာ့ ရှစ်ဆယ်တိတိ) အား အကောက်ခွန် နှင့် ကုန်သွယ် လုပ်ငန်းခွန်များ ပေးဆောင်၍ တင်သွင်းရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး |
| (လ) | Myanmar Pongpipat Co., Ltd. မှ ဟိန္ဒာ့သတ္တုတွင်း စီမံကိန်းတွင် အသုံးပြုမည့် လုပ်ငန်းသုံး စက်ပစ္စည်း ၁၃ မျိုး စုစုပေါင်းတန်ဖိုး အမေရိကန်ဒေါ်လာ ၉.၀၀ သန်း (အမေရိကန်ဒေါ်လာ ကိုးသန်း တိတိ)အား ထီးခီး-မေတ္တာလမ်းကြောင်း အတိုင်း ထိုင်းနိုင်ငံမှတဆင့် Draw Back စနစ်ဖြင့် တင်သွင်းခွင့်ပြုပါရန် ကိစ္စအား ဘဏ္ဍာရေးဝန်ကြီးဌာန၏ လုပ်ထုံးလုပ်နည်း နှင့် အညီ တင်သွင်းရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး |
| (ဝ) | Future Energy Co., Ltd. ဘီလူးချောင်း (၃) ရေအားလျှပ်စစ် စီမံကိန်း၏စိစစ်ပြီး စီမံကိန်းခန့်မှန်း ကုန်ကျစရိတ်နှင့် အမှန်တကယ် ကုန်ကျစရိတ်များကို ကော်မရှင်သို့ ပေးပို့ရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး<br>လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန |
| (သ) | Mandalay Golden Friend Mining Co., Ltd.မှ Shwe MawlamyineBeverage Enterprise Co., Ltd. သို့ ကုမ္ပဏီအမည်ပြောင်းလဲခွင့်ပြုရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး |

DG 40/ [illegible]

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဧပြီလ ရက်

အကြောင်းအရာ။ **Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင်အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက်) အား ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ ထုတ်ပေးနိုင်ပါရန် တင်ပြခြင်း ကိစ္စ**

၁။ Mandalay Golden Friend Mining Co., Ltd. သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက်ရှိ စက်ရုံနှင့်မြေ (၆.၆၉၄)ဧက နှင့် ကွင်းရပ်ရပ်ကွက်၊ ဇင်ယော် လမ်း၊ အမှတ် (၁၈) ဝန်ထမ်းအိမ်ရာ၏ မြေ (၄.၇၇၄)ဧက စုစုပေါင်း (၁၁.၄၆၈)ဧကကို ငှားရမ်း၍ B.O.T စနစ်ဖြင့် အဆင့်မြင့် ပြည်တွင်းဖြစ် အရက် ထုတ်လုပ် ဖြန့်ဖြူးခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် စက်မှုဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၀ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၃/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ Mandalay Golden Friend Mining Co., Ltd. (မန္တလေး ရွှေသူငယ်ချင်း သတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက်)မှ စက်မှုဝန်ကြီးဌာနပိုင် မြေကို ငှားရမ်း၍ B.O.T စနစ်ဖြင့် အဆင့်မြင့် ပြည်တွင်းဖြစ်အရက် ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းအား **"ကုမ္ပဏီအမည်ပြောင်း၍ တင်ပြလာပါက ခွင့်ပြုမိန့်ထုတ်ပေးရန်"**ဆုံးဖြတ်ခဲ့ပါသည်။

၂။ အစည်းအဝေး ဆုံးဖြတ်ချက်အရ ကုမ္ပဏီမှ Mandalay Golden Friend Mining Co., Ltd. အစား Shwe Mawlamyine Beverage Enterprise Co., Ltd. (ရွှေမော်လမြိုင်အဖျော်ယမကာလုပ်ငန်းကုမ္ပဏီလီမိတက်)သို့ ပြောင်းလဲပြီး ဖြစ်သောကြောင့် ခွင့်ပြုမိန့် ထုတ်ပေးနိုင်ပါရန် ကုမ္ပဏီမှတ်ပုံတင် လက်မှတ်မိတ္တူနှင့်အတူ ကော်မရှင်သို့ တင်ပြ လာပါသဖြင့် ၂၀၁၅ ခုနှစ် ဧပြီလ ၂ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၆/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

1051

၃။ သို့ဖြစ်ပါ၍ ၆/၂၀၁၅ ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ သက်ဆိုင်ရာ ရင်းနှီးမြှုပ်နှံသူသို့ ထုတ်ပေးမည့် **ခွင့်ပြုမိန့်၊ အမိန့်ကြော်ငြာစာနှင့်** ဥက္ကဋ္ဌထံ တင်ပြမည့် စာအား တင်ပြအပ်ပါသည်။

| ရေးသွင်းသူ | စိစစ်သူ(၁) | စိစစ်သူ(၂) |
|---|---|---|
| [signature] | [signature] 7/4/2015 | [signature] 7.4.15 |
| (ချမ်းမြေ့အောင်) | (ဆုလတ်ဖြူ) | (စန္ဒာအောင်) |
| ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | ဦးစီးအရာရှိ |

**ဒုတိယညွှန်ကြားရေးမှူး**

၄။ PL သို့ တင်ပြီး ဖြစ်ပါသည်။ MIC ဆုံးဖြတ်ချက်အရ [illegible]
[illegible] ဖြစ်ပါသည်။

[signature]
7.4.2015

ညွှန်မှူး
၅။ [illegible] ပါသည်။

[signature] [illegible]

[illegible]
၆။ [illegible]
[illegible]

[signature] [illegible]
[illegible]

[illegible]

[signature]
[illegible]

[illegible]
[signature]
10.4.2015
[illegible]

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၅၁ /၂၀၁၄

နေပြည်တော်၊ ၁၃၇၆ ခုနှစ်၊ ဝါခေါင်လပြည့်ကျော် (၉) ရက်
(၂၀၁၄ ခုနှစ် ၊ ဩဂုတ်လ ၁၉ ရက်)

**အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်ပေးရန် မလိုသော ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများသတ်မှတ်ခြင်း**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၅၆ ပုဒ်မခွဲ(ခ) နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၄၃ ပုဒ်မခွဲ(ခ) တို့အရအပ်နှင်းထားသောလုပ်ပိုင်ခွင့်ကို ကျင့်သုံး၍ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၁၂ ပုဒ်မခွဲ(ည) နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၁ ပုဒ်မခွဲ (ဠ)တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် ပေးရန် မလိုသော ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများ စာရင်းကို အောက်ပါအတိုင်း ထုတ်ပြန်လိုက်သည် -

**၁။ (အကောက်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့် မပေးသော လုပ်ငန်းများအုပ်စု )**

| အမှတ်စဉ် | ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ |
|---|---|
| (က) | အရက်၊ ဘီယာ၊ စီးကရက် နှင့် အလားတူ ကုန်ပစ္စည်း ထုတ်လုပ်သည့်လုပ်ငန်းများနှင့် ဆက်စပ်သည့် ဝန်ဆောင်မှုလုပ်ငန်းများ |
| (ခ) | ဓာတ်ဆီ၊ဒီဇယ်ဆီ၊စက်သုံးဆီနှင့် သဘာဝဓာတ်ငွေ့ရောင်းချသည့်လုပ်ငန်းများ |
| (ဂ) | ယာဉ်ပြင်ဆင်မှုနှင့်အလားတူ ဝန်ဆောင်မှုလုပ်ငန်းများ |
| (ဃ) | နိုင်ငံသားများကောင်းစွာလုပ်ကိုင်နိုင်သည့် နည်းပညာမမြင့်မားဘဲ ရင်းနှီးမြှုပ်နှံမှုပမာဏ အနည်းငယ်ဖြင့် ဆောင်ရွက်သည့် စက်မှုလုပ်ငန်းများ (လုပ်သား အင်အား အများအပြား အသုံးပြုသည့် လုပ်ငန်းများမပါ) |
| (င) | သစ်တောနယ်မြေ(ကြိုးဝိုင်း၊ ကြိုးပြင်ကာကွယ်တော)အား နှစ်ရှည် ငှားရမ်းပြီး စိုက်ပျိုးထုတ်လုပ်ခြင်းလုပ်ငန်း၊ သစ်တောခုတ်လှဲထုတ်လုပ်ခြင်းလုပ်ငန်း |
| (စ) | သဘာဝအရင်းအမြစ်တူးဖော်ထုတ်လုပ်သည့် လုပ်ငန်းများ(ရေနံနှင့်သဘာဝဓာတ်ငွေ့ ရှာဖွေတူးဖော်ထုတ်လုပ်ခြင်းမပါ) |
| (ဆ) | အဆောက်အအုံဆောက်လုပ်၍ပြန်လည် ရောင်းချသည့် လုပ်ငန်းများ |
| (ဇ) | ယာဉ်၊ စက်ယန္တရား ငှားရမ်းသည့် ဝန်ဆောင်မှု လုပ်ငန်းများ |
| (ဈ) | စားသောက်ဆိုင်နှင့် အစားအသောက် ရောင်းချသည့် လုပ်ငန်းများ |

၂။ နို့နှင့်နို့ထွက်ပစ္စည်းနှင့် သက်ဆိုင်သော စားသောက်ကုန်လုပ်ငန်းများကို ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်မပေးဘဲ အကောက်ခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်ပေးမည့် လုပ်ငန်း အဖြစ် သတ်မှတ်လိုက်သည်။

၃။ ဤအမိန့်ကြော်ငြာစာပါ ကိစ္စရပ်များသည် ဤအမိန့်ကြော်ငြာစာ ထုတ်ပြန်ပြီးနောက် ကော်မရှင်က ခွင့်ပြုသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများနှင့်သာ သက်ဆိုင်စေရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၆ /၁ /၂၀၁၄( ၀၀၅၀)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၉ ရက်

**ဖြန့်ဝေခြင်း**
နိုင်ငံတော်သမ္မတရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
လွှတ်တော်ရုံး
ပြည်ထောင်စုတရားလွှတ်တော်ချုပ်
နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး
ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်ရုံး
ပြည်ထောင်စုဝန်ကြီးဌာနများအားလုံး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များအားလုံး
ပြည်ထောင်စုရှေ့နေချုပ်ရုံး
ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး
ပြည်ထောင်စုရာထူးဝန်အဖွဲ့
တိုင်းဒေသကြီး၊ ပြည်နယ်အစိုးရအဖွဲ့ရုံးအားလုံး
ဦးဆောင်ညွှန်ကြားရေးမှူး } မြန်မာနိုင်ငံပြန်တမ်းတွင် ထည့်သွင်း
ပုံနှိပ်ရေးနှင့် စာအုပ်ထုတ်ဝေရေးလုပ်ငန်း } ကြေညာပေးပါရန်

၂၅။ ခွင့်ပြုမိန့်ဖြင့် လုပ်ကိုင်လျက်ရှိသော ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းတွင် အလုပ်လုပ်ကိုင်သည့် နိုင်ငံခြားသားများသည် နိုင်ငံတော်က ထုတ်ပေးသော အလုပ်လုပ်ခွင့် လက်မှတ်၊ ပြည်တွင်း နေထိုင်ခွင့် လက်မှတ်ရရှိရေးအတွက် ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၂၆။ ရင်းနှီးမြှုပ်နှံသူသည်-

(က) အမှုထမ်းများနှင့် အလုပ်သမားများကို ခန့်ထားရာ၌ အလုပ်ခန့်ထားမှုဆိုင်ရာ သဘောတူညီချက် စာချုပ်ကို သတ်မှတ်ချက်များနှင့်အညီ ချုပ်ဆိုရမည်။

(ခ) အလုပ်ခန့်ထားမှုဆိုင်ရာ သဘောတူညီချက်စာချုပ်ပါ အလုပ်ရှင်နှင့် အလုပ်သမားတို့၏ အခွင့်အရေးနှင့် တာဝန်များကိုလည်းကောင်း၊ အလုပ်အကိုင်ဆိုင်ရာ စည်းကမ်းချက်များကိုလည်းကောင်း သတ်မှတ်ရာ၌ အနည်းဆုံးလုပ်ခလစာ၊ ခွင့်ရက်၊ အလုပ်ပိတ်ရက်၊ အချိန်ပိုလုပ်ခ၊ နစ်နာကြေး၊ အလုပ်သမားလျော်ကြေး၊ လူမှုဖူလုံရေးနှင့် အလုပ်သမားများနှင့် သက်ဆိုင်သည့် အခြားအာမခံ ထားရှိခြင်းတို့ အပါအဝင် တည်ဆဲ အလုပ်သမားဆိုင်ရာဥပဒေ၊ နည်းဥပဒေများပါ အခွင့်အရေးများ ရရှိရေးအတွက် ဆောင်ရွက်ပေးရမည်။

(ဂ) အလုပ်ရှင်အချင်းချင်း၊ အလုပ်သမားအချင်းချင်း၊ အလုပ်ရှင်နှင့်အလုပ်သမား၊ အလုပ်သမားနှင့် အတတ်ပညာရှင် သို့မဟုတ် ဝန်ထမ်းတို့အကြား ပေါ်ပေါက်လာသည့် အငြင်းပွားမှုများကို သက်ဆိုင်ရာ တည်ဆဲ ဥပဒေများနှင့်အညီ ဖြေရှင်းရမည်။

## အခန်း(၁၂)
## ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ

၂၇။ ကော်မရှင်သည် နိုင်ငံတော်အတွင်း နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုများကို အားပေးအထောက်အကူ ပြုရန် အလို့ငှာ ရင်းနှီးမြှုပ်နှံသူအား အောက်ပါ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်များ အနက် ပုဒ်မခွဲ(က)ပါ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကိုခွင့်ပြုရမည်။ ထို့ပြင် ကျန်ရှိသော အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် တစ်ရပ်ရပ်ကိုဖြစ်စေ၊ တစ်ရပ်ရပ်ထက်ပို၍ ဖြစ်စေ၊ အားလုံးကိုဖြစ်စေ ခံစားခွင့်ပြုရန် တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်သည်-

(က) ကုန်ထုတ်လုပ်ငန်း သို့မဟုတ် ဝန်ဆောင်မှု လုပ်ငန်းတစ်ခုခု စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း ငါးနှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်၊ ထို့ပြင် နိုင်ငံတော်အတွက် အကျိုးကျေးဇူးရှိလျှင် ရင်းနှီးမြှုပ်နှံသည့် လုပ်ငန်း၏ အောင်မြင်မှုပေါ် မူတည်၍ သင့်လျော်သော ကာလအတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ခ) လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ဂ) ဝင်ငွေခွန် စည်းကြပ်ရန်ကိစ္စ အလို့ငှာ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည် ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်၊

(ဃ) ကုန်ထုတ်လုပ်ငန်းတစ်ခုခုက ထုတ်လုပ်သည့် ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ ရရှိသော အမြတ်ငွေအပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့်၊

(င) နိုင်ငံခြားသားများ၏ ဝင်ငွေအပေါ်တွင် ပြည်တွင်းနေ နိုင်ငံသားများ ပေးဆောင်သည့် ဝင်ငွေခွန် နှုန်းထားများအတိုင်း ဝင်ငွေခွန် ပေးဆောင်ခွင့်၊

(စ) နိုင်ငံတော်အတွင်း အမှန်တကယ်လိုအပ်၍ ဆောင်ရွက်သည့် လုပ်ငန်းဆိုင်ရာ သုတေသန နှင့် ဖွံ့ဖြိုးရေး လုပ်ငန်းများအတွက် ကုန်ကျစရိတ်ကို အခွန်စည်းကြပ်ထိုက်သော ဝင်ငွေမှ နုတ်ပယ်ခွင့်၊

(ဆ) လုပ်ငန်း တစ်ခုချင်းအလိုက် ပုဒ်မခွဲ(က)ပါ ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားပြီး တစ်ဆက်တည်း နှစ် နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလ အထိ သယ်ယူခုနှိမ်ခွင့်၊

(ဇ) လုပ်ငန်း တည်ဆောက်မှုကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ တင်သွင်း သော စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက် ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကို ဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ဈ) လုပ်ငန်း တည်ဆောက်မှု ပြီးစီး၍ ပထမ သုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်း သည့် ကုန်ကြမ်းများအပေါ်တွင်အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက် များဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ၊ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ည) ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး၊ မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းအား ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း တိုးချဲ့လုပ်ကိုင်ပါက ယင်းသို့ တိုးချဲ့သည့် လုပ်ငန်းအတွက် အမှန်တကယ် အသုံးပြုရန် လိုအပ်၍ တင်သွင်းသော စက် ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာအစိတ် အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန် ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ဋ) ပြည်ပသို့ တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်။

## အခန်း(၁၃)
## အာမခံချက်များ

၂၈။ ပြည်ထောင်စု အစိုးရအဖွဲ့သည် ခွင့်ပြုမိန့်ဖြင့် ဖွဲ့စည်းသည့် စီးပွားရေး လုပ်ငန်းကို ပဋိညာဉ် စာချုပ်ပါ သက်တမ်း သို့မဟုတ် ယင်းသက်တမ်းကို တိုးမြှင့်ပေးလျှင် ယင်းသို့ တိုးမြှင့်ပေးသည့် သက်တမ်းအတွင်း နိုင်ငံပိုင်ပြုလုပ်ခြင်းမပြုဟုအာမခံသည်။

အခန်း(၁၀)
အမှုထမ်းများနှင့် အလုပ်သမားများ ခန့်ထားခြင်း

၁၉။ ရင်းနှီးမြှုပ်နှံသူသည် -

(က) နိုင်ငံသား ဝန်ထမ်းများအား လုပ်ငန်းကျွမ်းကျင်မှု တိုးတက်လာစေရေး အတွက် လေ့ကျင့်ပေးခြင်း၊ သင်တန်းပေးခြင်းတို့ကို စီစဉ်ဆောင်ရွက်ပေးရမည်။

(ခ) အလုပ်သမား စုဆောင်းခြင်းကို အလုပ်အကိုင်နှင့် အလုပ်သမား ရှာဖွေရေးရုံးမှ လည်းကောင်း၊ ပြည်တွင်း အလုပ်အကိုင် ရှာဖွေရေး ကိုယ်စားလှယ်များမှ လည်းကောင်း၊ ရင်းနှီးမြှုပ်နှံသူ၏ အစီအစဉ်ဖြင့်လည်းကောင်း ဆောင်ရွက်ရမည်။

(ဂ) ကျွမ်းကျင်သူ အလုပ်သမားများ၊ အတတ်ပညာရှင်များနှင့် ဝန်ထမ်းများ ခန့်ထားရာတွင် တည်ဆဲ အလုပ်သမားဆိုင်ရာ ဥပဒေ၊ နည်းဥပဒေနှင့် အညီ အလုပ်ခန့်ထားမှုဆိုင်ရာ သဘောတူညီချက် စာချုပ်ကို အလုပ်ရှင်နှင့် အလုပ်သမားတို့ နှစ်ဦး နှစ်ဖက် လက်မှတ် ရေးထိုး၍ ခန့်ထားရမည်။

(ဃ) အမှုထမ်းများနှင့် အလုပ်သမားများကို ခန့်ထားရာ၌ အလုပ်ခန့်ထားမှုဆိုင်ရာ သဘောတူညီချက် စာချုပ်ကို တည်ဆဲ အလုပ်သမားဆိုင်ရာ ဥပဒေနှင့်အညီ ချုပ်ဆိုရမည်။

(င) အလုပ်ခန့်ထားမှုဆိုင်ရာ သဘောတူညီချက် စာချုပ်ပါ အလုပ်ရှင်နှင့် အလုပ်သမားတို့၏ အခွင့်အရေးနှင့် တာဝန်များကို လည်းကောင်း၊ အလုပ်အကိုင်ဆိုင်ရာ စည်းကမ်းချက်များကို လည်းကောင်း



MCIL

သတ်မှတ်ရာ၌ အနည်းဆုံးလုပ်ခလစာ၊ ခွင့်ရက်၊ အလုပ်ပိတ်ရက်၊ အချိန်ပိုလုပ်ခ၊ နစ်နာကြေး၊ အလုပ်သမားလျော်ကြေး၊ လူမှုဖူလုံရေးနှင့် အလုပ်သမားများနှင့် သက်ဆိုင်သည့် အခြားအာမခံ ထားရှိခြင်းတို့ အပါအဝင် တည်ဆဲ အလုပ်သမားဆိုင်ရာ ဥပဒေများပါ အခွင့်အရေးများရရှိရေးအတွက် ဆောင်ရွက်ပေးရမည်။

(စ) အလုပ်ရှင် အချင်းချင်း၊ အလုပ်သမား အချင်းချင်း၊ အလုပ်ရှင်နှင့် အလုပ်သမား၊ အလုပ်သမား နှင့် အတတ်ပညာရှင် သို့မဟုတ် ဝန်ထမ်း တို့အကြား ပေါ်ပေါက်လာသည့် အငြင်းပွားမှုများကို သက်ဆိုင်ရာ တည်ဆဲဥပဒေများနှင့်အညီ ဖြေရှင်းရမည်။

အခန်း(၁၁)
ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ

၂၀။ ကော်မရှင်သည် နိုင်ငံသားများ၏ ရင်းနှီးမြှုပ်နှံမှုများကို အားပေး အထောက်အကူပြုရန် အလို့ငှာ ရင်းနှီးမြှုပ်နှံသူအား အောက်ပါအခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအနက် ပုဒ်မခွဲ (က)ပါ အခွန် ကင်းလွတ်ခွင့်ကို ခွင့်ပြုရမည်။ ထို့ပြင် ကျန်ရှိသော အခွန်ကင်းလွတ်ခွင့် သက်သာခွင့် တစ်ရပ်ရပ်ကို ဖြစ်စေ၊ တစ်ရပ်ရပ်ထက်ပို၍ဖြစ်စေ၊ အားလုံးကိုဖြစ်စေ ခံစားခွင့်ပြုရန် တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်သည်-

(က) ကုန်ထုတ်လုပ်ငန်း သို့မဟုတ် ဝန်ဆောင်မှု လုပ်ငန်းတစ်ခုခု စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်းငါးနှစ်အထိဝင်ငွေခွန်ကင်းလွတ်ခွင့်၊

(ခ) နိုင်ငံတော်မှ အထူး လိုအပ်ချက်အရ ဆောင်ရွက်သော လုပ်ငန်းများအတွက် ကော်မရှင်မှ ထပ်မံသတ်မှတ်ပေးသည့် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်၊

(ဂ) ပုဒ်မခွဲ(က)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင်ထိုအမြတ်ငွေအပေါ်တွင်ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ဃ) ကုန်ထုတ်လုပ်ငန်းတစ်ခုခုက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့ တင်ပို့ရောင်းချ၍ ရရှိသောအမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့်၊

(င) အမှန်တကယ် လိုအပ်၍ ဆောင်ရွက်သည့် လုပ်ငန်းဆိုင်ရာ သုတေသနနှင့် ဖွံ့ဖြိုးရေး လုပ်ငန်းများအတွက် ကုန်ကျစရိတ်ကို အခွန်စည်းကြပ်ထိုက်သော ဝင်ငွေမှ နုတ်ပယ်ခွင့်၊

(စ) လုပ်ငန်းတစ်ခုချင်းအလိုက် ပုဒ်မခွဲ(က)ပါ ဝင်ငွေခွန်ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ် နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်၊

(ဆ) လုပ်ငန်းစတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ်အသုံးပြုရန်လိုအပ်၍ တင်သွင်းသောယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင်



အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ဇ) ဝင်ငွေခွန်စည်းကြပ်ရန် ကိစ္စအလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့်ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကိုအမြတ်ငွေထဲမှနုတ်ပယ်ခွင့်၊

(ဈ) လုပ်ငန်း တည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက်ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ည) ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ရင်းနှီးမြှုပ်နှံမှု ပမာဏတိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန် အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(၄) ပြည်ပသို့ တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများ အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်။

## အခန်း(၁၂)
## အာမခံချက်များ

၂၁။ ပြည်ထောင်စုအစိုးရအဖွဲ့သည် ခွင့်ပြုမိန့်ဖြင့်ဖွဲ့စည်းသည့် စီးပွားရေး လုပ်ငန်းများကို နိုင်ငံပိုင် သိမ်းယူခြင်းမပြုဟု အာမခံသည်။

၂၂။ ရင်းနှီးမြှုပ်နှံသူ၏ မတည်ငွေရင်းတွင် နိုင်ငံခြားငွေ ပါရှိခဲ့ပါက ယင်းငွေကို သတ်မှတ်ချက်များနှင့်အညီ သက်ဆိုင်ရာ ဘဏ်သို့ ပြန်လည်ပေးဆပ်ခွင့်ပြုရန် ပြည်ထောင်စုအစိုးရ အဖွဲ့က အာမခံသည်။

၂၃။ ကော်မရှင်၏ ခွင့်ပြုမိန့်အရ ဆောင်ရွက်လျက်ရှိသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းတစ်ခုအား ခွင့်ပြုချက်သက်တမ်း မကုန်မီ ခိုင်လုံသော အကြောင်းကိစ္စ မရှိဘဲ ရပ်ဆိုင်းခြင်း မပြုရန် ပြည်ထောင်စု အစိုးရအဖွဲ့က အာမခံသည်။

## အခန်း(၁၃)
## မြေအသုံးပြုခွင့်

၂၄။ ကော်မရှင်သည် နိုင်ငံတော်ထံမှ မြေငှားရမ်း လုပ်ကိုင်ခွင့် ရရှိသော ရင်းနှီးမြှုပ်နှံသူအား မြေအသုံးပြုခွင့်ကာလကို စီးပွားရေး လုပ်ငန်း၊ စက်မှုလုပ်ငန်း သို့မဟုတ် စိုက်ပျိုးမွေးမြူရေး လုပ်ငန်း အမျိုးအစားနှင့် ရင်းနှီးမြှုပ်နှံမှု ပမာဏအပေါ် မူတည်၍ ကနဦးနှစ် ၅၀ အထိ ခွင့်ပြုနိုင်သည်။



၂၅။ ကော်မရှင်သည် ပုဒ်မ ၂၄ အရ ခွင့်ပြုထားသော သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက် လုပ်ကိုင်လိုသော ရင်းနှီးမြှုပ်နှံသူအား ရင်းနှီးမြှုပ်နှံမှုပမာဏနှင့် လုပ်ငန်းအမျိုးအစားပေါ် မူတည်၍ တစ်ဆက်တည်း သက်တမ်းတိုးခွင့် ၁၀ နှစ် နှစ်ကြိမ် တိုးမြှင့်ပေးနိုင်သည်။

၂၆။ ကော်မရှင်သည် နယ်စပ်မျဉ်းမှ ၁၀ မိုင်အတွင်း ဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများအား ဒေသခံ တိုင်းရင်းသားများကို အထူးအစီအစဉ်ဖြင့် ဦးစားပေးလုပ်ကိုင်ခွင့် သတ်မှတ်ပေးရမည်။

၂၇။ ကော်မရှင်သည် အစိုးရဌာန၊ အစိုးရ အဖွဲ့အစည်းပိုင် မြေငှားရမ်းခ နှုန်းထားများနှင့် စပ်လျဉ်း၍ ပြည်ထောင်စု အစိုးရ အဖွဲ့၏ ကြိုတင် သဘောတူညီချက်ဖြင့် အခါအားလျော်စွာ သတ်မှတ်ပေးနိုင်သည်။

၂၈။ ကော်မရှင်သည် နိုင်ငံတော် တစ်ဝန်းလုံးတွင် ဖွံ့ဖြိုးတိုးတက်စေရန်အလို့ငှာ စီးပွားရေး ဖွံ့ဖြိုးမှုနည်းပါးပြီး ဆက်သွယ်သွားလာရေး ခက်ခဲသော ဒေသများတွင် ရင်းနှီးမြှုပ်နှံသူများ အတွက် ဤဥပဒေပါ မြေငှားရမ်းခွင့်ကာလ သို့မဟုတ် မြေအသုံးပြုခွင့်ကာလထက်ပိုမို၍ ခံစားခွင့်ရရှိစေရန် သတ်မှတ်နိုင်သည်။

## အခန်း(၁၄)
## မတည်ငွေရင်း

၂၉။ ကော်မရှင်သည် မတည်ငွေရင်းကိုဘဏ်က လက်ခံ ခွင့်ပြု ဆောင်ရွက်ပေးသည့် ငွေကြေး အမျိုးအစားအတိုင်း ရင်းနှီးမြှုပ်နှံသူ၏ အမည်ဖြင့် မှတ်ပုံတင်ရမည်။ ထိုသို့ မှတ်ပုံတင်ရာတွင် မတည်ငွေရင်း အမျိုးအစားများကို ဖော်ပြရမည်။